




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၁၁၉/၉၈ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် မန်နေဂျင်း ဒါရိုက်တာ

(ခ) အဘအမည် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(ဃ) နေရပ်လိပ်စာ ၇၂/၇၄၊ ရွှေတိဂုံဘုရားလမ်း၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း နေရှင်နယ်လ်ဒီဗက်လမတ် ကော်ပိုရေးရှင်း (National Development Corporation)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်း [နိုင်ငံတက
အဆင့်မီအိမ်ရာ၊ အဆင့်မီဈေး( Shopping Mall )၊ စုပေါင်းအပန်းဖြေ
အပန်းဖြေစက်ရာဥ( Recreation Center )၊ ဆားဗစ်အပါတ်မန့်(Servic
Apartment )၊ မင်္ဂလာဆောင်မှင့်ရုံးခန်းမ(Mingalar Hall & Office Complex ) ဆောက်လုပ်ငှားရမ်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းအမှတ်၊ ၄၆(၁-က)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၆၃၇.၁၃)သန်း
(ကျပ်တစ်ထောင့်ခြောက်ရာ၊ သုံးဆယ့်ခုနစ်သန်း၊ တစ်သိန်းသုံးသောင်း

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၉/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တပို့တွဲ လပြည့်ကျော် ၁၄ ရက်။
(၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်)

၁။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) (UMEHL) နှင့် မြန်မာ့ ဂိုးလ်ဒင်း စတား ကုမ္ပဏီ လီမိတက် (Myanma Golden Star Co., Ltd.) (MGS) တို့ ဖက်စပ်ပြု၍ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation) တည်ထောင်၍ ကာကွယ်ရေး ဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်း၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်း အမှတ် ၄၆(၁-က)ရှိ မြေ (၃၀.၃၄၇)ဧက (၁၂၂၀၀၀.၆၈ စတုရန်းမီတာ)ကို နှစ်(၆၀) ငှါးရမ်း၍ အဆင့်မြင့် အိမ်ရာ စီမံကိန်း လုပ်ငန်း {နိုင်ငံတကာ အဆင့်မီ အိမ်ရာ၊ အဆင့်မီ ဈေး (Shopping Mall)၊ စပေါ်င်း အပန်းဖြေ အဆောက်အဦ (Recreation Center)၊ ဆားဗစ် အပါတ်မန် (Service Apartment)၊ မင်္ဂလာခန်းမ နှင့် ရုံးခန်းမ (Mingalar Hall & Office Complex)၊ အဆင့်မြင့် အိမ်ရာများ ဆောက်လုပ် ငှါးရမ်းခြင်း} ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၉-၁-၉၈) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၂၂-၁-၉၈) နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၄/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation)အား အဆင့်မြင့် အိမ်ရာ စီမံကိန်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၁၉/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ဖြေလျှော့ချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်နိုင်ဖော်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

၃။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ ကာကွယ်ရေး ဝန်ကြီးဌာန နှင့် အငှား ချထားခြင်းခံရသူ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation) တို့ ချုပ်ဆိုမည့် အဆင့်မြင့် အိမ်ရာ တည်ဆောက် ရောင်းချခြင်း ဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ် နှင့် မြေငှါးရမ်းခြင်း သဘောတူ စာချုပ်များကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅) စောင်စီကို ဤ ကော်မရှင်သို့ တင်ပြရမည်။

၄။ နိုင်ငံတကာ အဆင့်မီ အိမ်ရာ စီမံကိန်း အကောင်အထည် ဖော်ရာတွင် အဆောက်အဦများ ဆောက်လုပ်နိုင်ရန် အတွက် အခြေခံ လုပ်ငန်းများ ဖြစ်သည့် မြေယာ ပြုပြင်ခြင်း၊ လမ်းနှင့် ရေမြောင်း ဖောက်လုပ်ခြင်း၊ ရေရရှိရေးကို ပဋိညာဉ် စာချုပ် လက်မှတ် ရေးထိုးပြီး (၃)လ အတွင်း စတင်ဆောင်ရွက်ရန် နှင့် အဆင့်မြင့် အိမ်ရာ အဆောက်အဦ ဆောက်လုပ်ခြင်း လုပ်ငန်းများ ဖြစ်သော နှစ်ထပ် အဆင့်မြင့် လုံးချင်း အိမ်ရာ (Type A) (၁၂)လုံး၊ နှစ်ထပ် အဆင့်မြင့် လုံးချင်း အိမ်ရာ (Type B) (၁၂)လုံး၊ နှစ်ထပ် အဆင့်မြင့် လုံးချင်း အိမ်ရာ (Type C) (၃၀)လုံး၊ တစ်ထပ်ခွဲ အဆင့်မြင့် လုံးချင်း အိမ်ရာ (Type D) (၂၇)လုံး၊ စုစုပေါင်း (၈၁)လုံးကို ပဋိညာဉ် စာချုပ် လက်မှတ် ရေးထိုးပြီး (၃)နှစ် အတွင်း အပြီးတည်ဆောက် ရမည်ဖြစ်ပြီး၊ အဆင့်မီဈေး (Shopping Mall) (၂)လုံး၊ ဆားဗစ် အပါတ်မန့် (Service Apartment) (၂)လုံး၊ စုပေါင်းအပန်းဖြေ အဆောက်အဦ (Recreation Center) (၁)လုံး၊ မင်္ဂလာခန်းမ နှင့် ရုံးခန်းမများ (Mingalar Hall & Office Complex) (၁)လုံးကို ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီး (၅)နှစ်အတွင်း အပြီး တည်ဆောက်ရမည်။

၅။ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်းသည် မြေငှါးရမ်း သုံးစွဲခွင့် (Land Use Premium) အတွက် တစ်နှစ်လျှင် တစ်ဧကလျှင် ကျပ် ၀.၈၃သန်း နှုန်းဖြင့် အနှစ် ၆၀ အတွက် ကာကွယ်ရေး ဝန်ကြီးဌာနအား ကျပ် (၁၅၀၁.၃၂)သန်း (ကျပ်တစ်ထောင်ငါးရာတစ်သန်း သုံးသိန်းနှစ်သောင်း)ကို အောက်ပါအတိုင်း ပေးချေ ရမည်။

(က) ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့ရက်တွင် ကျပ်၁၅၀၁.၃၂သန်း၏ (၁၀)ရာခိုင်နှုန်း ဖြစ်သည့် ကျပ် (၁၅၀.၁၃)သန်း (ကျပ်တစ်ရာငါးဆယ်သန်း တစ်သိန်းသုံးသောင်း) ကို ပေးချေရမည်။

(ခ) လုပ်ငန်း အကောင်အထည် ဖော်သည့် ပထမနှစ် လုပ်ငန်းစတင်သည့်နေ့မှ (၃)လ အတွင်း ကျပ် (၁၅၀၁.၃၂)သန်း ၏ (၃၅)ရာခိုင်နှုန်း ဖြစ်သည့် ကျပ် (၅၂၅.၄၆)သန်း (ကျပ်ငါးရာနှစ်ဆယ်ငါးသန်းလေးသိန်းခြောက်သောင်း)ကို ပေးချေရမည်။

(ဂ) လုပ်ငန်း အကောင်အထည်ဖော်သည့် ဒုတိယနှစ်၊ ပထမ (၃)လ အတွင်း ကျပ်(၁၅၀၁.၃၂)သန်း၏ (၃၅)ရာခိုင်နှုန်း ဖြစ်သည့် ကျပ် (၅၂၅.၄၆)သန်း (ကျပ်ငါးရာနှစ်ဆယ်ငါးသန်းလေးသိန်းခြောက်သောင်း)ကို ပေးချေရမည်။

(ဃ) လုပ်ငန်း အကောင်အထည် ဖော်သည့် တတိယနှစ်၊ ပထမ (၃)လ အတွင်း ကျပ်(၁၅၀၁.၃၂)သန်း၏ (၂၀)ရာခိုင်နှုန်းဖြစ်သည့် ကျပ်(၃၀၀.၂၆)သန်း (ကျပ်သုံးရာသန်းနှစ်သိန်းခြောက်သောင်း)ကို ပေးချေရမည်။

၆။ အဆင့်မီဈေး (Shopping Mall) (၂)လုံး၊ ဆားဗစ် အပါတ်မန့် (Service Apartment) (၂)လုံး၊ စုပေါင်း အပန်းဖြေ အဆောက်အဦ (Recreation Center) (၁)လုံး၊ မင်္ဂလာခန်းမ နှင့် ရုံးခန်းမများ (Mingalar Hall & Office Complex) (၁)လုံး တည်ဆောက် အသုံးပြုမည့် မြေဧရိယာအတွက် ဂရန်ထုတ်ပေးသည့်နေ့မှစ၍ နှစ်စဉ် ငါးရမ်းခကို စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာနသို့ ပေးဆောင်ရမည်။

၇။ အထက်ဖော်ပြပါ အဆောက်အဦများ အတွက် နှစ်စဉ် မြေငှါးရမ်းခကို စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာနသို့ ပေးချေရာတွင် ပထမ (၁၀)နှစ် (၁-၁၀)နှစ် အတွက် အဆိုပါ အဆောက်အဦ၏ စုစုပေါင်းဝင်ငွေ (Gross Income)၏ (၅)ရာခိုင်နှုန်း သို့မဟုတ် ကျပ် (၁၂.၀၀)သန်း (ကျပ်တစ်ဆယ့်နှစ်သန်း) အနက် များရာကို ပေးဆောင်ရမည်။ ဒုတိယ (၁၀)နှစ် (၁၁-၂၀)နှစ်အတွက် အဆိုပါ အဆောက်အဦ၏ စုစုပေါင်းဝင်ငွေ(Gross Income)၏ (၆)ရာခိုင်နှုန်း သို့မဟုတ် ကျပ်(၁၄.၀၀)သန်း (ကျပ်တစ်ဆယ့်လေးသန်း) အနက် များရာကို ပေးဆောင်ရမည်။ (၂၁)နှစ်မှ စ၍ နောက်ပိုင်းနှစ်များအတွက် အဆိုပါ အဆောက်အဦ၏ စုစုပေါင်းဝင်ငွေ(Gross Income)၏(၇)ရာခိုင်နှုန်းသို့မဟုတ်ကျပ်(၁၆.၀၀)သန်း (ကျပ်တစ်ဆယ့်ခြောက်သန်း) အနက်များရာကို ပေးဆောင်ရမည်။

၈။ ရန်ကုန်တိုင်း၊ မရမ်းကုန်းမြို့နယ် မြေတိုင်းအမှတ် ၄၆(၁-က)ရှိမြေ (၃၀.၁၄၇)ဧကအား ငှားရမ်းခြင်းအတွက် မြေငှါးရမ်းခြင်း သဘောတူစာချုပ်၏ သက်တမ်းကာလသည် စာချုပ်ကို နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ နှစ်(၆၀) သတ်မှတ်ရမည်။

၉။ စာချုပ်သက်တမ်း ကုန်းဆုံးပြီး နောက်ထပ် သက်တမ်း တိုးမြှင့်မည် ဆိုပါက စာချုပ် သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး (၃)လကြိုတင်၍ စာဖြင့်အကြောင်းကြားရမည်ဖြစ်ပြီး၊ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းသည် နှစ်ဘက်သဘောတူညီချက် ရရှိပြီး၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ကို ရယူရမည်။

၁၀။ ဆောက်လုပ်ပြီးသော အဆင့်မြင့် အိမ်ရာများကို နိုင်ငံသားများကို ရောင်းချနိုင်ရေး အတွက် ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက်က အငှါးချမှု ဂရန်ရရှိရေးအတွက် ဆောင်ရွက်ပေးရမည်။

၁၁။ စာချုပ်ချုပ်ဆိုသည့်အခါ စာချုပ်ချုပ်ဆိုပြီးနောက် (၆)လအတွင်း မြေနှင့်တကွမြေပေါ်ရှိ အဆောက်အဦ တပ်ဆင်ထားသော ပစ္စည်းများ အပါအဝင် အားလုံးတို့ကို နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်းမှ ကာကွယ်ရေး ဝန်ကြီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည် ပေးအပ်ရမည်။

၁၂။ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation)သည် နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီများသို့ အခန်းများကို ရောင်းချခွင့် မရှိပဲ အခန်းအသုံးပြုခွင့် (Leasehold interest) ကိုသာ ငှားရမ်းရမည်။ ထို့အပြင် ၁၉၈၇ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေ ပုဒ်မ၅၊ ပုဒ်မခွဲ(က) အရ တစ်ကြိမ်လျှင် တစ်နှစ်ထက် ပို၍ အငှားချထားခြင်း မပြုရသည့်အပြင် အငှားချထားခြင်းခံရသူ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီက အခြားတစ်ဦးတစ်ယောက်သို့ ထပ်ဆင့်ငှားရမ်းခြင်း (Sub-Lease)၊ လွှဲပြောင်းခြင်း (Transfer) တို့ကို ပြုလုပ်ခွင့် မရှိကြောင်း အငှားစာချုပ်တွင် ထည့်သွင်းချုပ်ဆိုရမည်။

၁၃။ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation) ကို မြန်မာ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့် အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ-အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၄။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ နေရှင်နယ်လ် ဒီဗက်လမက် ကော်ပိုရေးရှင်း (National Development Corporation)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှုထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၇။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အကျိုးပြု လုပ်ငန်း ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ -

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက-၁/မ-၁၇၄/ဇ၇ (၂၂၅၁)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ ရုံး။
၄။ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ အမှုဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။

၂၅။ မန်နေဂျင်း ဒါရိုက်တာ၊ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက်။

၂၆။ မန်နေဂျင်း ဒါရိုက်တာ၊ မြန်မာ့ ဂိုးလ်ဒင်း စတား ကုမ္ပဏီ လီမိတက်။

အ မိန့် အ ရ –

( မောင်မောင်ရှိ )
တွဲဖက်အတွင်းရေးမှူး